# ဦးအောင်မွေသုခ၏ ဥဒါန်း

- ဗုဒ္ဓသာသနာ၊ ဤကမ္ဘာ၊ ပမာနေသို့ ထွန်းစေသောဝ်။
- သူတော်ကောင်းခေတ် အကျင့်မြတ် လွှမ်းပတ်ကမ္ဘာတည်စေသောဝ်။
- ဒို့မြန်မာပြည် တိုင်း၌ာနီ၊ အရှည်တည်တံ့မြဲစေသောဝ်။
- တိုင်း၌ာနီမြတ် သူတော်ခေတ် လွှမ်းပတ်ခြုံငုံတည်စေသောဝ်။
- သာသနာအကျိုး သည်ဆောင်ပိုး ကမ္ဘာဟိုးဟိုးကျော်စေသောဝ်။

# ရသေ့အကြောင်း သိကောင်းစရာများ

## ( မာတိကာ )

## ရသေ့ဟူသော ဝေါဟာရ ရှင်းလင်းချက်

လောကတွင် ရသေ့ဟူသော ဝေါဟာရသည် ထင်ရှားရှိသော်လည်း ရဟန်းရှင် လူအများမှာ ထင်ရှား မဖြစ်ကြပေ။ လောက၌ ရသေ့ဟူသည် ထင်ရှားရှိပေ၏။ ဗုဒ္ဓဝင်စာပေများကို သေချာစွာ ဖတ်ရှုကြည့်လျှင် သိမြင်နိုင်၏။

ရသေ့ဟူသည် မာဂဓဘာသာစကားအားဖြင့် ( ဣသိ ) ဟုခေါ်ဆိုကြပြီးလျှင် သက္ကဋဘာသာစကားအရ မှာမူ ( ရိသိ ) မှ ဆင်းသက်လာကြောင်း မဟာဗုဒ္ဓဝင်ကျမ်း၌ တိပိဋကဓရဆရာတော်ဘုရားကြီး ဦးဝိစိတ္တသာရာ ဘိဝံသမထေရ် ကိုယ်တိုင် အကျယ်ချဲ့၍ ရှင်းပြတော်မူပါသည်။ မာဃဒေဝလင်္ကာသစ် ပိုဒ်ရေ (၄၂၁) ၌ " ဣသိ ရိသိ၊ ပါဠိ သက္ကဋ၊ ဘာသာပြထား၊ နှစ်ပါးအလို - ထိုဝေါဟာရ၊ ခေါ်ကြတုံဘိ၊ ပါဠိအရှိသား၊ ပါဠိအမှတ်၊ ဣသဓာတ်ဖြင့်၊ ကျင့်မြတ်မွေညက်၊ တည်ငြိမ်သက်သာ၊ သီလက္ခန္ဓ၊ စသည်အထူး၊ ဂုဏ်ကျေးဇူးကို၊ ဆည်းပူးမပြတ်၊ ရှာမှီးတတ်ဟု၊ သကတ်ပဝတ္တ၊ အနက်ရလျက်၊ သက္ကဋဘာသာ၊ သညာမှည့်ရှိ၊ ထိုရိသိ၌ ရိကိုရရေး၊ ဣ - ဧ - အောက်မြစ်၊ ဝေါဟာသစ်ဖြင့်၊ မြန်ခေတ် ဗိုလ်လူ ရသေ့ဟူသည်၊ သူတော်လူမွန်၊ သီလဝန်တို့ " ဟု စပ်ဆိုခဲ့ ပြဋ္ဌာန်းပေးခဲ့ပြီးဖြစ်ပါသည်။

ထို့ပြင် တစ်ချက်သိစေအပ်သည်မှာ - ရသေ့ဟူသည် ဗုဒ္ဓဘုရား ရှင်တော်မြတ်ဘုရား မဖြစ်မီ မိဂဒါဝုန်အမည်ရှိသော သမင်တို့ကို ဘေးမဲ့ပေးရာတော၌ တရားရှာမှီး၍ နေထိုင်တော်မူကြကုန်သော ပဉ္စဝဂ္ဂီခေါ် နောင်ရဟန်းများ၊ အရှင်မြတ်များ ဖြစ်လာတော်မူကြမည့် အလောင်းအလျာများဖြစ်သော ကောဏ္ဍည၊ ဝပ္ပ၊ ဘဒ္ဒိယ၊ မဟာနာမ်၊ အဿဇိ ဟူသော ပုဂ္ဂိုလ်ရသေ့ကြီးများ ရှိခဲ့ဖူးပါ၏။ တရားဟောခြင်းအစ ဓမ္မစကြာကဟု ဆိုရာ ဓမ္မစကြာတရားဦးကို နာခွင့်ရကြသော ( ဣသိပတနမိဂဒါဝုန် ) ရသေ့ကြီးများ ရှိခဲ့ပါကြောင်း ဗုဒ္ဓဘာသာဝင် သူတော်စင်တိုင်း သိရှိနားလည်သင့်ကြပေသည်။ ထိုဣသိပတနမိဂဒါဝုန် ရသေ့ကြီးများကဲ့သို့ ဗုဒ္ဓဘုရားရှင်သည်ပင် ဘုရားမဖြစ်မီ နေထိုင်ခဲ့ပါသောကြောင့် သာသနာအစ ရသေ့က (ဝါ) ဣသိပတနမိဂဒါဝုန် ရသေ့များကဟု ဆိုပါလျှင် မမှားပါချေ။ သာသနာတော်အား လေးစားမြတ်နိုးကြကုန်သော သူတော်ကောင်းအပေါင်းသည် ရသေ့၊ ရဟန်းရှင်၊ လူ၊ သူတော်ကောင်းအပေါင်းတို့အား သတိချပ်၍ လေးစားကြည်ညိုတတ်ကြစေခြင်းငှာ အကျိုးဆောင်ခြင်းသာလျှင် ဖြစ်ပါသည်။

## ရသေ့အမျိုးအစားကို သီလက္ခန်အဋ္ဌကထာ၊ အမ္ဗဋ္ဌသုတ်အဖွင့်တွင်

၁။ သပုတ္တဘရိယရသေ့
၂။ ဥဉ္ဆစရိယရသေ့
၃။ အနဂ္ဂိပက္ကိကရသေ့
၄။ အသာမပါကရသေ့
၅။ အယမုဋ္ဌိကရသေ့
၆။ အသ္မမုဋ္ဌိကရသေ့
၇။ ဒန္တဝက္ကသိကရသေ့
၈။ ပဝတ္တဖလိဘောဇနရသေ့
၉။ ပဏ္ဏုပလာသိကရသေ့ ( ပန်တုပလာသိက ) ဟူ၍ ကိုးမျိုးကွဲကြောင်း သိရပေသည်။

ထိုကွဲပြားနေခြင်းမှာ ရသေ့အမျိုးအစား ကွဲပြားခြင်းမဟုတ်မူပါဘဲ နေထိုင်မှု ကွဲပြားခြင်း ကိုးမျိုးသာလျှင် ဖြစ်ပါသည်။

## ရသေ့ငါးမျိုး

၁။ ဂယာဝသ ကုသလ ရသေ့

၂။ ဂယာဝသ ပညိဝရ ရသေ့

၃။ ဗျာကရ သိပ္ပဝရ ရသေ့

၄။ တိဿစ္စရ သိပ္ပဝရဓမ္မ ရသေ့

၅။ နိက္ခမဝရစ္စရဓမ္မ ရသေ့ ဟူ၍ ငါးမျိုးရှိပါသည်။

## ရသေ့ငါးမျိုး၏ နေထိုင်ပုံအကျဉ်း

၁။ ဂယာဝသ ကုသလ ရသေ့ ဟူသည် အိမ်ထောင်သားမွေးမှုဖြင့် နေထိုင်လျက် ကောင်းသောစီးပွားဥစ္စာ ရှာဖွေစားသောက်နေထိုင်ရင်း ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာတို့ကို အထူးရိုသေလေးစား အမြတ်ထားတတ်သောသူဖြစ်သည်။

၂။ ဂယာဝသ ပညိဝရ ရသေ့ ဟူသည် အိမ်ထောင်သားမွေး၊ သက်မွေးသန့်စင်၊ ဉာဏ်လျှင်ရှေ့သွား၊ အမိက ထား၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တနှင့် နိယောသေစ္စာ အဘယ်ရာကို ငါသည် မုချရပါမှဟု စိတ်မှရည်သန် မြတ်ကျင့်မှန်နှင့် ယူရန်စိတ်ကူး မြူးကြွစိတ်ဓာတ် အကျင့်မြတ်နှင့် ပရိယတ်၊ ပဋိပတ် နှစ်ဖြာပညာစနည်းနာ၍ ရှာဖွေပေါင်းစု ကောင်းမှုကုသိုလ် ပြုကျင့်၍နေသောသူကို ဆိုလိုပေသည်။

၃။ ဗျာကရ သိပ္ပဝရ ရသေ့ ဟူသည် အခက်အခဲများမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း၊ ဆင်းရဲမှုမှ လွတ်မြောက်ကြောင်း၊ မသိမှု မရှိမှုမှ လွတ်မြောက်ကြောင်းများကို အသိပညာ အတတ်ပညာတို့ကို သင်ကြား လေ့ကျင့် ဟောပြောလုပ်ကိုင်နေသော ဓမ္မနှင့်ယှဉ်၍ ဆင်ခြင်နေထိုင်ကြသော ပုဂ္ဂိုလ်များကို ဆိုလိုသည်။

၄။ တိဿစ္စရ သိပ္ပဝရဓမ္မ ရသေ့ ဟူသည်ကား သရဏဂုံသုံးပါးကို မြဲမြံစွာလက်ကိုင်ပြု၍ သီလ၊ ဒါန၊ ဘာဝနာကိစ္စရပ်များ၊ အကြောင်းခြင်းရာများကို အသိပညာ၊ အတတ်ပညာ မျိုးစုံစွာဖြင့် ပရိယတ်၊ ပဋိပတ်၊ ပဋိဝေဒ သာသနာသုံးရပ်အား အပတ်တကုတ် ကြိုးစားအားထုတ်နေတတ်ကြသော ပုဂ္ဂိုလ်များကို ဆိုလိုသည်။

၅။ နိက္ခမဝရစ္စရဓမ္မ ရသေ့ ဟူသည် တရားတော်နှင့်သာလျှင် မွေ့လျော်၍ ဝနေ တောရပ်၌သာ ခိုလှုံပြီးလျှင် တစ်ပါးတည်း တရားဖြင့်သာ နေထိုင်တတ်ကြသော သိဒ္ဓိ၊ မဟိဒ္ဓိတို့ဖြင့် ပြည့်စုံနေသော ပုဂ္ဂိုလ်ကိုခေါ်၏။

## စားသောက်ပုံတူညီကြခြင်း

ရသေ့ဆိုသော ပုဂ္ဂိုလ်အားလုံးသည် သတိ၊ သံဝေဂ ကို အခြေခံ၍ ကိုယ်ခြင်းစာတရားပေါ်၊ စရဏာ၊ စိတ်ဖြစ်ပေါ်မှုကို ခံစားမှုတူညီနေကြခြင်းကြောင့် စားသောက်မှုခြင်း တူနေကြပါသည်။ ဥပမာ၊ မိမိကြောင့်သူတစ်ပါး ထိခိုက်ဆုံးရှုံးမှု မဖြစ်စေလိုသော မေတ္တာစိတ် အခြေခံတည်ရှိ ဖြစ်ပေါ်မှုအရ -

(၁) သက်လွတ် စားတတ်ကြခြင်း

(၂) ကုန်းသတ္တဝါ မစားကြခြင်း

(၃) အခြေလေးချောင်းသတ္တဝါ မစားကြခြင်း

(၄) သားကြီး ငါးကြီး မစားကြခြင်း

(၅) မီးလွတ် စားသုံးနေထိုင်ခြင်း ဟူ၍ တူညီလက္ခဏာများ ရှိနေတတ်ကြပါသည်။

## နေထိုင်မှု ကွဲပြားခြင်း

(၁) ဂဃါဝါသ ကုသလရသေ့၊ (၂) ဂဃါဝါသ ပညိဝရ ရသေ့၊ (၃) ဗျာကရ သိပ္ပဝရရသေ့ တို့သည်ကား အိမ်ထောင်သာမွေး - မြူရေးမပါယ် - မသိမ္မရှောင်၊ သိမ္မဆောင်လျက်၊ စာဂတရား လက်ကိုင်ထားရန် အားစိတ်မာန်နှင့်၊ ပညာသို့ိုး၊ ချည်းနှီးမနေ၊ ထွေထွေသုတ၊ ရယူကြလျက်၊ လူကောင်း လူမွန်၊ လူရည်ချွန်တို့ သွားရာမြဲလမ်း နိဗ္ဗာန်စခန်းကို ဆရာမကူ - သရမ္မူညာဏ်ကို ရယူလိုသား - အလောင်းတော်ပုဂ္ဂိုလ်များကို အားကျနှစ်ခြိုက် - လမ်းကြောင်းကို လိုက်လိုကြသော ပုဂ္ဂိုလ်များပေတည်း။

ထိုနည်းတူစွာ ဖြည့်ကျင့်ပါရမီ၊ စောင့်ထိန်းသီလ၊ ပြုဒါနနှင့်၊ အသိပညာ၊ အတတ်ပညာ၊ မျိုးစုံစွာလျှင် သိစေခြင်းငှာ ဆည်းပူးလေ့ကျင့် သတိချဉ်း၍ ဤကားအချို့ ဤကားအချဉ် ညာဏ်သိမြင်ပြီးလျှင် ကိစ္စအဝဝ ပြေလျော့ ချတတ်ခြင်း ပရိယာယ်ဝေဝုဝ် - အမျိုးမျိုးသော အကြောင်းအခြင်းအရာတို့ကို ပရိယာဒ်၊ ပရိပါဒ်၊ ပရိဝေဒ ပညာခဏ်းများဖြင့် သုံးသပ်၊ ဆုံးဖြတ်၊ လေ့ကျင့်ဖြည့်ဆည်း ကြကုန်သော (၄) တိသာစူရ သိပ္ပဝရ ဓမ္မရသေ့နှင့် (၅) နိက္ခမရသေ့ တို့သည်ကား ရှေးအစဉ်အဆက် ကြိုးစားအားထုတ်တော်မူကြသော ဘုရားလောင်း၊ ပစ္စေကဗုဒ္ဓလောင်း၊ ရဟန္တာလောင်းများအဖြစ် ကြံစည်ကြိုးစားနေထိုင်ကြသူများ ဖြစ်ကြပေသည်။

## ရသေ့ဖြစ်စဉ် အမျိုးအစား ကွဲပြားခြားနားပုံ

(၁) အနန္တ သတ္တဝါအားလုံးတို့အား လောကီ၊ လောကုတ်၊ သံသရာဝဲဩဃမှ လွတ်မြောက်စေခြင်းငှာ၊ ကိုယ်တိုင် သိသော လောကသစ္စာတရားဖြင့် ကယ်တင်ဆောင်ယူပေးလိုသောဆန္ဒဖြင့် ဘုရားဆုကို ပန်ဆင်ကြသော ဘုရားဆုပန် ရသေ့ကြီးများ။

(၂) မိမိကိုယ်တိုင် လောကသစ္စာတရားခေါ် သစ္စာလေးပါးအမျိုးမျိုးကို ထိုးထွင်းကြံဆသိမြင်လျက် လက်လှမ်း မှီသမျှ ကယ်မ၍သွားလိုသောဆန္ဒဖြင့် ကြိုးစားနေကြသော ပစ္စေကဗုဒ္ဓဆုပန် ရသေ့ကြီးများ။

(၃) မိမိကိုယ်တိုင် နိဗ္ဗာန်ဝင်နိုင်ပြီးလျှင် သူတစ်ပါးကိုလည်း နိုင်စွမ်းသမျှ ကျွတ်လွတ်အောင် ဆောင်ရွက်ပေးလိုသော ဆန္ဒဖြင့် ကြိုးစားအားထုတ်နေကြသော ဆုထူးပန် ရသေ့ကြီးများ။

(၄) ရဟန်းဘဝမှ (၂၂၇) သွယ်သော သိက္ခာလျှောကျသည်ကို မိမိကိုယ်တိုင် သိမြင်၍ သံဃဂုဏ် မညှိုးစေခြင်းငှာ အရှိန်မပျက် တရားဖက်၍နေကြသော - သံဝေဂရ - စာဂပြုပြင် ညာဏ်ရှင်ပြုလုပ်နေကြသော ဆုထူးပန် ရသေ့ကြီးများ။

(၅) သာမဏေ - ကိုရင်ဘဝမှ အကြောင်းအမျိုးမျိုးကြောင့် ရဟန်းဘောင်သို့ တက်လှမ်းခြင်း မပြုတော့ဘဲ အတတ်ပညာ၊ အသိပညာ၊ သဒ္ဒါတို့ကို အခြေခံလျက် ဝီရိယဖြင့် တရားကို ကြိုးစားအားထုတ်နေကြသော ဆုထူးပန် ရသေ့ကြီးများ။

(၆) နေ့စဉ် ကြုံတွေ့နေရသော အကြောင်းအကျိုးများမှ သံဝေဂ ရစရာ သင်ခဏ်းစာများမှ ပေးသောအသိဖြင့် ငါတရားရမှ အေးမည်ဟူသော အသိ သတိ ဆုံးဖြတ်ချက်ဖြင့် တရားအားထုတ်နေကြသော သံဝေဂဝရ ဓမ္မရသေ့ကြီးများ။

(၇) ဝါသနာကို အခြေအနေပြု၍ ဆုထူး - ဆုလာဘ် များဖြင့် ဝိဇ္ဇာစရ - သိသော၊ တတ်သော ပုဂ္ဂိုလ်များတွင် နည်းနာနိဿယများ ခံယူဆောက်တည် လေ့ကျင့်အားထုတ်ကြသော ဗျာကရ ရသေ့ကြီးများ။

(၈) ဘဝကွေ့များ၌ အခက်အခဲပေါင်းစုံ ကြုံတွေ့ခံစား သတိသံဝေဂတရားဟု နှိုးဆော်မှုကြောင့် အားကိုးရာရာ ရှာဖွေရင်း ဓမ္မနယ်အတွင်း ရောက်ရှိကြိုးစားပွါးများ အားထုတ်နေကြသော ရသေ့ကြီးများ။

(၉) အခြေအနေအရပ်ရပ်ကြောင့် အယောင်ယောင်ဖြင့် အားကိုးရှာမှီး နည်းနိဿယ ပေါင်းစုံလည်း မသိမတတ် အရပ်ရပ်သို့ လှည့်လည်သွားလာ ဘာညာမဟုတ် တွေ့ထိခံစားလာရာ အကြောင်းတို့ကို တရားလုပ်၍ အဟုတ်ဟုထင် ဉာဏ်သက်ဝင်လျက် ထင်ယောင်ဝိုးဝါး ဝိဇ္ဇာလေလား၊ နာမ်လောကသားလေလား၊ နတ်မင်းကြီးလေလား ထင်ယောင်ဝိုးဝါး တွေဝေ၍သွားအောင် ခေတ်ပေါ်ဖြတ်လမ်း ချမ်းသာပေးမှုစခန်းဟု တွေ့ရာကြုံရာ ပြုမူပြောဆိုနေတတ်ကြသော ပရိယတ်၊ ပဋိပတ်၊ ပရိဝေဒ ကင်းမဲ့သော၊ ဆရာကင်းမဲ့သော၊ ပညာဉာဏ်နည်းပါးသော၊ ထင်ရာစိုင်းသော ရသေ့အသွင် ယောဂီလည်းမဟုတ်သော၊ သူ့သဘော သူဆောင်၍နေကြသော ပုဂ္ဂိုလ်ရသေ့များလည်း ရှိကြပေ၏။

( မိမိကိုယ်တိုင် ဖြစ်သင့်၊ မဖြစ်သင့် ကိုးကွယ်သင့်၊ မသင့်အား ဝေဖန်သုံးသပ်နိုင်ပါရန် ရေးသားတင်ပြခြင်းသာ ဖြစ်ပါသည်။ )

## ရသေ့များ၏ အဆောင်အယောင်များ

**ပြင်ပအဆောင်အယောင်များ**

၁။ အရှည်ဝါသိကစိဝရ (ခေါ်) အညိုရောင်သင်္ကန်း

၂။ အနေကထိုင် / သားရေနွယ်

၃။ သပိတ်၊ ရေစစ်၊ ရေတကောင်း

၄။ တောင်ဝှေး၊ ပစ်တောင်း (ဝါ) တောင်းငယ်

၅။ ဓားမ၊ ရဲတင်း၊ ပေါက်ချွန်း၊ ပေါက်ပြား

၆။ ကိုယ်လုံ ကိုယ်ခံအတတ်ပညာများ

**အတွင်းအဆောင်အယောင်များ**

၁။ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာ

၂။ ဓမ္မဝိဇ္ဇာအတတ်နှင့်တကွသော ဝိဇ္ဇာအတတ်ပညာများ

၃။ ပရိယတ်၊ ပဋိပတ်၊ ပရိဝေဒ ပညာရပ်များ

၄။ လောကဗျူဟာပရိယာယ်ဝေဝုစ်များ

## မြန်မာနိုင်ငံ၌ ထူးခြားဆန်းပြား ရသေ့ကြီးများ

၁။ တိဿရသေ့ ကျိုက်ထီးရိုးဆံတော်ရှင်

၂။ တိဿ ဓူရဓမ္မ ရသေ့ ကေလာသစေတီ - လမိုင်းမြို့

၃။ ဦးခန္တီ - ပျဉ်းမနား - မန္တလေး - မော်လမြိုင် - ကချင်ပြည်နယ် - ရှမ်းပြည်နယ် - ကယားပြည်နယ်

၄။ တော်ကြီးဘုရား - ညောင်ရွှေစော်ဘွားကြီး စပ်ဟုန်ဖ မှ ရသေ့ဝတ်သောအခါ - တော်ကြီးဘုရားအမည်ဖြင့် ဝိဇ္ဇာရေနယ်ပါယ်တွင် ထင်ရှားပြီး နယ်မြေအသီးသီး ဂိုဏ်းဂဏအသီးသီး၌ ထင်ရှားသူ - အထူးသဖြင့် အတွင်းပဋ္ဌမ် ကိုးဂိုဏ်းတွင် ထင်ရှားသူဖြစ်သည်။

၅။ ဦးကွိန္နောဘာသရသေ့ - မန္တလေး ငါးရံ့မင်းပုန်းတောင် ( ဝါ ) ရန်ကင်းတောင်

၆။ ဦးအဂ္ဂိယ - မြန်မာပြည် ဘုရားစေတီများမီးလင်းရေးလိုက်ပါဆောင်ရွက်ပေးတတ်သော ဓမ္မဂန္ဓာရီခရီးသည် ရသေ့ကြီး

၇။ ဦးအောင်ချမ်းသာ - ရသေ့အသွင်၊ လူအသွင် သာသနာပြုလုပ်ငန်းဖြစ်သော တရားဟောခြင်း၊ ဘုရားတည် ကျောင်းဆောက် လှူဒါန်းခြင်းများပြုလုပ်လျက် - မြန်မာပြည်အရပ်ရပ် လှည့်လည်နေသောရသေ့ကြီး

၈။ ဦးအောင်ဓမ္မ - နိက္ခဆန်စွာအားထုတ်မှုအကျင့်သန်လျက် ရံခါတွင် ရန်ခိုက်ဒေါသဖြစ်နေကြသောနေရာများသို့ ရုတ်ချည်းရောက်လာတတ်ပြီး ရန်ပြေငြိမ်းအောင် ကြိမ်အနီရောင် တစ်တောင်တစ်မိုက် ခန့်နှင့် ရောက်လာတတ်သော ရသေ့ကြီး

၉။ ဦးအောင်ဓမ္မသုခ - ရဟန်းတော်ကြီးများမှ အကျင့်သန်သော ဦးအောင်ဓမ္မရသေ့ကြီးနှင့်မှားကြသော - အမိဌာန်ပြု၍ အရပ်တကာ နယ်တကာလှည့်လည် ဘုရားတည် ကျောင်းဆောက် သတ္တဝါကယ် လုပ်ငန်းများဖြင့် ကြိုးစားကျင့်ကြံ ပါရမီခန်းများဖြင့် သွားနေသော ရသေ့ကြီး

ဟူ၍ အကြမ်းမျဉ်းအားဖြင့် ဖော်ပြအပ်ပေသည် ဖော်ပြပါရသေ့ကြီးများသည် တရားစည်းကမ်း၊ သံဃာစည်းကမ်း၊ လူမှုစည်းကမ်း၊ နိုင်ငံစည်းကမ်းများကို လိုက်နာ၍သာလျှင် ကျင့်ကြံကြိုးစား အားထုတ်ကြသော ရသေ့ကြီးများသာလျှင်ဖြစ်ပါသည်။

## ရသေ့များလိုက်နာအပ်သောစည်းကမ်းများ

၁။ ရသေ့ဟူသည် - ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာ တို့ကို အထူးရိုသေလေးစားတတ်ကြရပါမည်။

၂။ ဘုရားရှင်၏ အကြောင်းတရားများကို စာပေအသိ၊ ပြောဆိုဆုံးမမှုအသိများဖြင့် သိရှိရပါမည်။

၃။ တရားတော်များကို စာပေအသိ၊ ပြောဆိုဆုံးမခံယူမှုအသိတို့ဖြင့် သိရှိရပါမည်။

၄။ သံဃာတော်များကို သိရှိနားလည်း၍ ရိုသေခြင်း ပရိယတ်၊ ပဋိပတ်၊ ပရိဝေဒ ဘာသာရပ်များ မေးမြန်းစုံစမ်း နည်းနာယူကြရပါမည်။

၅။ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာ နှင့် သူတော်ကောင်း အပေါင်းတို့အား မိမိ၏ ပြုမှုလုပ်ကိုင်ပြောဆိုနေထိုင်မှုကြောင့် နစ်နာပျက်စီးစေခြင်းမရှိစေရပါ။

၆။ မိမိလေ့လာ တတ်မြောက်ထားသော အသိပညာ၊ အတတ်ပညာ၊ ဝိဇ္ဇာစရပညာရပ်များဖြင့် မိမိ၏ ပါရမီအကျိုး၊ အများအကျိုး သည်ပိုးရွက်ဆောင်ရသူများ ဖြစ်ပါသည်။

၇။ မိမိကြောင့်၊ အတတ်ပညာကြောင့် သူတပါးထိခိုက် နစ်နာစေခြင်းမရှိအောင် ပြုလုပ်ရသော အတတ်ပညာများဖြစ်သော မဟိဒ္ဓိ ပညာများကို လေ့လာဆည်းပူးကြသူများ ဖြစ်ပါသည်။

၈။ ရသေ့ဟူသည် သစ္စာဝါဒ၊ မေတ္တာဝါဒ သမားများဖြစ်သည့်အလျောက် နေ့စဉ်နှင့်အမျှ သစ္စာမေတ္တာဘာဝနာလုပ်ငန်းများကို မပျက်ကြရသော ပုဂ္ဂိုလ်များဖြစ်ပါသည်။

၉။ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားများနှင့် သူတော်ကောင်းပုဂ္ဂိုလ်တို့အားလည်းကောင်း၊ ကာယကံရှင်များအားလည်းကောင်း၊ ထင်ရောင်ထင်မှားဖြစ်အောင် ပြုမူပြောဆိုခြင်းမပြုကြရပါ။

၁၀။ လောကသူတို့အား အကျိုးယုတ်စေသော၊ အယူဝါဒမှားစေသော အလုပ်များ မလုပ်ကြရ မပြောကြရပါ။

၁၁။ ဟုတ်တိုင်းမှန်ရာ သစ္စာစကားကို အခြေခံ၍ သစ္စာမေတ္တာစကားများဖြင့် အသိပေးခြင်း၊ အတတ်ပညာ ပေးခြင်း၊ တရားအားထုတ်ခြင်း၊ တရားဟောခြင်း၊ တရားပြပေးခြင်း၊ ဘုရားတည်ခြင်း၊ ကျောင်းဆောက် ခြင်း၊ သီလ၊ ဒါန ၊ ဘာဝနာမှုများဖြင့်သာ ထုံမွှန်နေအောင် ပြုလုပ်နေကြရသော ပုဂ္ဂိုလ်များကိုသာလျှင် ရသေ့ကြီးများဟု ခေါ်ပါသည်။

## ရသေ့ထင်မှား ယောဂီများ

လောက၌ ထွက်ရပ် ( ဝါ ) ထွက်ပေါက် (သို့ ) လွတ်မြောက်ရာလမ်း ရှာဖွေနေကြသူများကြပါကုန်။ သို့ဖြစ်စဉ်တွင် ရဟန်းများ၊ ရသေ့များ၊ ယောဂီ၊ လူပုဂ္ဂိုလ်များဖြစ်ကြပါသည်။ ထိုတည်းတွင် ယောဂီပုဂ္ဂိုလ်များသည် ရသေ့များနှင့် ဆင်ဆင်တူညီမှုရှိသည်ကို တွေ့ကြရမည်ဖြစ်ပါသည်။ သေချာစေ့ငု ကြည့်ရှုပါလျှင် ယောဂီဟူသည်ကို ထင်ရှားမြင်ကြရမည်ဖြစ်ပါသည်။

## ယောဂီများ

၁။ အညိုရောင်ကို တကိုယ်လုံး ဝတ်ဆင်လျှက် တရားရှာဖွေခြင်း ၊ အသိ ၊ အတတ် ပညာ ရှာဖွေခြင်းနှင့် ဘုရား ၊တရား၊ သံဃာ ၊ မိဘ ၊ ဆရာတို့အား ကြည်ညိုလေးစားတတ်သောသူများ

၂။ အညိုရောင် အောက်ခံ အဖြူရောင် အပေါ်ပိုင်းနှင့် အညိုရောင် တဘက်ကို စလွယ်သိုင်းဝတ်ဆင်လျှက် ဗုဒ္ဓပူဇာ စာပေများ ၊ ဂုဏ်တော်များ ၊ ဂါထာတော်များ ရွတ်ဖတ်ပူဇော်ခြင်း ၊ တရားလှည့်လည်အားထုတ်ခြင်း၊ တရားရိပ်သာ စခန်းများဝင်ကြသော ပုဂ္ဂိုလ်များ ဖြစ်ကြပါသည်။

၃။ ရောင်စုံဝတ်လျှက် - ဘုရား ၊ တရား ၊ သံဃာ ၊ မိဘ ၊ ဆရာ တို့အား ရှိသေစွာ ချဉ်းကပ်လျှက် ပညာရှာဖွေရင်း နည်းနာနိဿယ ရှာဖွေနေကြသော ပုဂ္ဂိုလ်များဖြစ်ကြပါသည်။

ထိုထိုသော ယောဂီပုဂ္ဂိုလ်များသည်ကား စားဝတ်နေရေး ဖြေရှင်းနေထိုင်ကြရင်း၊ ကျန်းမာအောင် နေထိုင်ကြရင်း ဘုရား၊ တရား ၊ သံဃာ ၊ မိဘ ၊ ဆရာတို့ကို လေးစားအားထားလျှက်မှ အသိပညာ၊ အတတ်ပညာ၊ အကျင့်တရားများကို လေ့လာဆည်းပူး၍ လွတ်လမ်းနည်းပညာ လောကီလောကုတ် ရှာဖွေဆည်းပူး နေကြပါသောကြောင့် ယောဂီများဟု ခေါ်ဝေါ်သမုတ်ကြခြင်း ဖြစ်ပါသည်။ သို့သော် - ယောဂီသည် ရသေ့များမဟုတ်ကြပါ။ ရသေ့များသည်လည်း ယောဂီများမဟုတ်ကြောင်း သတိချပ်သင့်ကြပေသည်။

## ရသေ့များနှင့်သုံးနှုန်းသောစကားများ

ရသေ့ဟူသော ပုဂ္ဂိုလ်များသည်ကား လွတ်လမ်းတရားကို လွတ်လပ်စွာ ရှာဖွေတည်ဆောက် ကြသူများ ဖြစ်သောကြောင့် ကိုယ်တိုင်က စကားပြောရာတွင် စံမရွေးတတ်ကြပါ။ သို့သော် ဆက်ဆံသူများအနေဖြင့် ပုဂ္ဂိုလ်၏ အနေအထားပေါ် မူတည်၍ သာသနာနယ်ပယ်မှ ရှိသေခြင်းစကားများ ကိုသာ သုံးသင့်ကြပေသည်။

အဘယ့်ကြောင့်ဟူမူ ရသေ့အားလုံးသည် သာမဏေခေါ် ကိုရင်ကြီးများ ဖြစ်နေကြသောကြောင့်တည်း။ ပဗ္ဗဇိတ သဒ္ဒါ၏အနက် ပြဆိုမှုတွင် ရှင်သုံးမျိုးခွဲ၍ ပြဌာန်းထားရာ

( ၁ ) ဣသိပဗ္ဗဇ္ဇာ - ရှင်ရသေ့ပြုခြင်း

( ၂ ) သာမဏပဗ္ဗဇ္ဇာ - ရှင်ရဟန်းပြုခြင်း

( ၃ ) သာမဏေရပဗ္ဗဇ္ဇာ - ရှင်သာမဏေပြုခြင်း ဟု ပြဌာန်းထားသော တရားတော်လာ ပြဌာန်းချက်များအရ- ရသေ့များအား အရှင်ဘုရားတပည့်တော်စသဖြင့် ရဟန်းတို့နှင့် မခြားစကားပြောဆိုသင့်ပါကြောင်း သတိပေးရေးသားရပေသည်။

## ရသေ့အဖြစ်ကျင့်ကြံအားထုတ်လိုသူများ လေ့လာရန်ပညာရပ်များ

| | | | |
|---|---|---|---|
| ( ၁ ) ပြဒါးဝိဇ္ဇာ | ( ၂ ) အင်းဝိဇ္ဇာ | ( ၃ ) ဆေးဝိဇ္ဇာ | ( ၄ ) စမဝိဇ္ဇာ |
| ( ၅ ) မာန္တန်ဝိဇ္ဇာ | ( ၆ ) ဗေဒဝိဇ္ဇာ | ( ၇ ) ဂန္ဓာရီဝိဇ္ဇာ | ( ၈ ) ဓမ္မဝိဇ္ဇာ |

ထိုပညာရပ်များတွင် ဓမ္မနှင့် ရှင်၍ပြုမှုမှသာလျှင် အောင်မြင်နိုင်ပါကြောင်း သိအပ်၏ - ဓမ္မ ဝိဇ္ဇာသည် သာလျှင် တော်တည့်မှန်ကန်သော အတတ်ပညာဖြစ်ပါသည်။

## မွေနှောက်သိထားအပ်သော ပညာရပ်များ

| | | | |
|---|---|---|---|
| ( ၁ ) ဓါတ်မှော် | ( ၂ ) နတ်မှော် | ( ၃ ) ဘီလူးမှော် | ( ၄ ) ရှုက္ခစိုးမှော် |
| ( ၅ ) အောက်လမ်းမှော် | ( ၆ ) ကဝေမှော် | ( ၇ ) စုန်းမှော် | ( ၈ ) လမိုင်းမှော် |
| ( ၉ ) ဇော်တနီမှော် | (၁၀) ဇော်ကနက်မှော် | (၁၁) မောက်လုံးမှော် | (၁၂) မောက်ပြားမှော် |

ဟူသော လူတို့အား ညိတွယ်စေတတ်သော - လောဘ ၊ ဒေါသ ၊ မောဟ ၊ မာန်မာန တို့နှင့်ပြွမ်း၍နေသော ဤပညာတစ်ဆယ့်နှစ်ခန်းကိုလည်း ရသေ့မြတ်တို့သည် သစ္စာ မေတ္တာဖြင့်အောင်နိုင်၍ မိမိနှင့်အခြားသော ပုဂ္ဂိုလ်သတ္တဝါတို့အားကူညီကယ်တင်ပေးနိုင်ရေးအတွက် ထိုပညာရပ်တို့၏ သွားလမ်း ၊ လာလမ်း လုပ်ရပ်တို့ကို လေ့လာဆည်းပူးကြားနာ ထားသင့်ပါ၏။

## ယောဂကျင့်စဉ်ပါ ကိုယ်လုံပညာရပ်များ

ရသေ့များသည် - ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာတို့အား အမြဲမပြတ် ဆည်းကပ်ကိုးကွယ်လျှက် တရားရှာဖွေ အားထုတ် ကြိုးကုတ်ကြရသော ပုဂ္ဂိုလ်များဖြစ်သည့်အလျှောက် ကျန်းမာရေးနှင့် ညီညွတ်စေသော လေ့ကျင့်ခန်းများ၊ ကိုယ်လုံကိုယ်ခံပညာရပ်များ၊ ဒေါသမပါသော လေ့ကျင့်ခန်းများ ကိုလည်း တတ်မြောက်အပ်၏။

## ရသေ့တို့ဆင်ယင်ထုံးဖွဲ့ပုံ

ဗုဒ္ဓကျမ်းလာအရ- ဇမ္ဗာ - ဇမ္ဗာမဏ္ဍလ = ဆံကျစ်နှင့် ဆံကျစ်ဝန်း မြန်မာမှုပြုသော် - ဆံကျစ် ဆံထုံးနှင့် ဆံကျစ်ဝန်းခေါ် ရသေ့တို့ဆောင်းသော သားရေဖြင့်ကိုယ်တိုင်ပြုအပ်သော (၀ါ) နတ်များဆက်သသော ခေါင်းဆောင်း ( မှတ်ချက်ဝယ်ယူရသော တောင်းရသောအရာမဟုတ်ပေ ) ကိုယ်တိုင်ပြုလုပ်ရခြင်း၊ နတ်ဒေဝါများ ဆက်သခြင်းနှစ်မျိုးရှိပါ၏။ ကိုယ်တိုင်ပြုလုပ်သော် - အမြင့် မိမိလက်ဖြင့် တစ်ထောင် (၁၈ လက္ခ) ရှိရာ၏။ အဝန်းကား မိမိဦးခေါင်းနှင့် ကိုက်ရာ၏ ။အထက်သို့ဆန်တက်သော် ၈ လက္ခ အမြင့်တွင် အရှေ့မျက်နှာ၌ ပြောင်ထား၍ အနောက်တွင် လက်လေးသစ် ဖောက်ရပါ။။

ထိုမှတစ်ဖန် အမြင့်လက်လေးသစ်တွင် အဝိန်းထားရာ၏။ အပေါ်ထိပ်၏အချင်းကား တစ်မိုက် (၆ လက္ခ) ဖြစ်သောကြောင့် အောက်ခြေကား အပေါ်ရှူးသော ဦးထုပ်ဖြစ်ပါ၏။

ဥပမာ -

မုံရွေးဇေတဝန်ဆရာတော်ကြီးကမူ သမန္တစက္ကုဒီပဏီကျမ်း၌ " ကျစ်သစ်စွာထုံးထားသော ဆံပင်ကို ဆံကျစ်ဟုခေါ်၏။ ထိုနည်းတူ ဒေါက်ချာခေါ်ဦးထုပ်ကိုလည်း ဆံကျစ်ဟုပင်ခေါ်ဆို၏ " ဟုပြဌာန်းထားပေသည်။ ဇရှာဟူသောပါဠိကို ဆံကျစ်ဟုခေါ်ဆိုပါကြောင်း သိစေအပ်ပါသည်။

( မာဃဒေဝလင်္ကာသစ် ပဌမပိုင်းတောထွက်ခဏ်းဒုတိယပိုဒ်တွင် )

" ကေသမသုံ ဩဟာရေတွာ ကျမ်းသာပါဠိ မိန့်ခွန်းရှိတိုင်း ဣသိတာပသ် ပြုတုံလတ်သား သူမြတ်တကာ ရှေးဦးစွာ၌ ကေသာမဿု လူ့အသွင်ပြင် ဆံပင်မုတ်ဆိတ် ဖြတ်ရိတ်ပယ်ပြီး တသီးနောက်မှ ပေါက်သမျှကို မချလုံးလုံး ဆံကျစ်ထုံး၍ သက်ဆုံးတိုင်အောင် ထားကြဆောင်၏ ဆောင်သည်စစ်စစ် ထုံးဆံကျစ်လည်း ပုံ့ရစ်မိုးထက် ကောင်းကင်ငှက်ကို ဆက်ဆက်ဖမ်းငှား ဖန်စွာမချွတ် ကျော့ကွင်းညွတ်နှင့် မလွတ်ရဖွယ် ထောင်သောနယ်သို့ ထိပ်လည်ဦးဖျား အတွင်းထား၍ ရှစ်ပါးအင်ညီ အဌင်္ဂီမဂ်၊ တရားငှက်ကို ဆက်ဆက်ရအောင်ဖြားကြထောင်၏ " ဟူ၍ စပ်ဆိုဖော်ပြပါရှိပါသည်။

ရသေ့ဟူမူ ဆံပင်မုတ်ဆိတ် ရှိသော ရဟန်းအသွင်ဝတ်ဆင်၍ တရားနှင့်မွေ့လျော်ကြသော ပုဂ္ဂိုလ်များဟု မှတ်ယူအပ်၏။

ဥပမာ

ရသေ့ဦးဆောင်း (သို့) ဒေါက်ချာ






## ရသေ့ဟုက ကျင့်ရမည့်တရားများမှာ

၁။ ဘုရားဝတ်ပြုခြင်း

၂။ သီလတည်ဆောက်ခြင်း

၃။ ပရိက်ပြု၍တရားတောင်းခံခြင်း၊တရားထိုင်ခြင်း

၄။ ပရိက်ပြု၍သမဋ္ဌယာနိက နည်းဖြစ်သော ပုတီးစိပ်ခြင်း

၅။ မေတ္တာပို့သခြင်း

၆။ မေတ္တာခံယူခြင်း

၇။ နှစ်သက်မြတ်နိုးရာ ကမ္မဌာန်းပွားများနေခြင်း (ဝါ)ပုတီးစိပ်ခြင်း ( သို့ ) ဂုဏ်တော် ဂါထာတော် ရွတ်ဖတ်ပူဇော်ခြင်း

၈။ ကသိုဏ်ကမ္မန ကမ္မဌာန်းခေါ် ကသိုင်းပညာရပ်များ လေ့လာဆည်းပူခြင်း၊ ကသိုင်းကမ္မဌာန်းလေ့ကျင့်ခြင်း (ပညာရပ်များဆည်းပူးခြင်း )

၉။ စကြ်လျှောက်၍ တရားပွားများခြင်း၊ ကျန်းမာရေးလေ့ကျင့်ခြင်း ယောဂကျင့်စဉ်များပြုလုပ်ခြင်း

၁၀။ မိမိမြတ်နိုးရာ ဘုရားတည်ခြင်း၊ ကျောင်းဆောက်လှူခြင်း ၊ တရားဆွေးနွေးခြင်း၊ တရားဟောခြင်း၊ စာရေးသားခြင်း

အထက်ပါအကြောင်းခြင်းရာများကို နေ့စဉ်နှင့်အမျှ ကြိုးစားပွားများအားထုတ်ကြရပေမည်။ ပရိယတ္တိတတ်သူများရှိခြင်း၊ မရှိခြင်းကြောင့် ကွဲပြားမှုအနည်းငယ်ရှိနိုင်ပါသည်။

## မဖြစ်မနေရှိရင်းစွဲ ဖြစ်ရမည့်တရား

၁။ ဘုရားရှင်အားယုံကြည်ခြင်း၊ နှစ်သက်ခြင်း၊ ကိုးကွယ်ခြင်း

၂။ တရားတော်အားယုံကြည်ခြင်း၊ နှစ်သက်ခြင်း၊ ကိုးကွယ်ခြင်း

၃။ သံဃာတော်အားယုံကြည်ခြင်း၊ နှစ်သက်ခြင်း၊ ကိုးကွယ်ခြင်း

၄။ မိဘနှစ်ပါးအား ယုံကြည်စွာရှိသေခြင်း၊ လေးစားအားထားခြင်း

၅။ ဆရာသမားအား ယုံကြည်စွာရှိသေခြင်း၊ အားထားခြင်း

၆။ ကိုယ်ခြင်းစာစိတ် အမြဲမွေးမြူတည်ဆောက်ခြင်း

၇။ သစ္စာတရားအမြင်မှန်ကို နေရာတိုင်းဖြစ်စဉ်တိုင်းတွင် ရယူနိုင်ရန်ကြိုးစားအားထုတ်ခြင်း

၈။ ပြုနိုင်သမျှသောသစ္စာတို့ကို ပြု၍ အဓိဋ္ဌာန်တင်ပြီးဆောင်ရွက်ခြင်း

၉။ အမြဲတစေ မေတ္တာစိတ်ကိုရှေ့သွားပြု၍နေခြင်း

## မဖြစ်မနေ ရှောင်၍ဆောင်ရမည့် အကြောင်းတရားများ

၁။ မိမိကြောင့် ဘုရား၊ တရား ၊ သံဃာ ၊ မိဘ ၊ ဆရာ ၊ အဖွဲ့ ၊ ကျေးရွာ ၊ မြို့ပြ ၊ တိုင်းပြည် ၊ သာသနာ ဂုဏ်သိက္ခာငြိုးနွမ်းမှု မဖြစ်ပေါ်စေခြင်း

၂။ မိမိကြောင့် သူတပါး အများသူငါ ဒုက္ခမရောက်စေခြင်း

၃။ မိမိကြောင့် သူတပါးအများ နေရာအလုပ်အကြောင်း အကျိုးတရားများ မပျက်စီးစေခြင်း

# နိဂုံးပိုင်း

ရသေ့ဟူသောပုဂ္ဂိုလ်များမှာ မိမိသဘောထားအလျှောက် ထင်ရာစိုင်းရသော ပုဂ္ဂိုလ်များ မဟုတ်မူပါဘဲလျှက် ပြုလုပ်ရှိနေကြသော သူတော်ကောင်းရသေ့အပေါင်း ဆင်ခြင်မိကြစေခြင်း အကျိုးငှာလည်းကောင်း၊ ကျန်ရှိ သူတော်ကောင်းများသည် ရသေ့ဟူသည် ဤသို့ဟူ၍ သိရှိကြစေခြင်းငှာလည်းကောင်း၊ အကျဉ်းချုံးရေးသား တင်ပြခြင်းသာ ဖြစ်ပါသည်။

သို့ ရေးသွင်းသော ကျွန်ုပ် အောင်ဓမ္မသုခ ရသေ့သည်လည်း ပြည့်စုံသောပညာရှင်မဟုတ်သေးပါ လေ့လာဆဲ လေ့ကျင့်ဆဲ ၊ ကြိုးစားဆဲ ၊ ပါရမီဖြည့်ကျင့်ဆဲသာလျှင်ဖြစ်ပါကြောင်း အားလုံးသောရဟန်းရှင် လူ သူတော်ကောင်း အပေါင်းတို့အား ဦးနှိမ်ချလျှက် -

ဦးအောင်ဓမ္မသုခ

အင်ကြင်းမြိုင်ယက္ခန်းစင်တောင်တော်